၆။ အောက်ပါဝန်ဆောင်မှုများကို မိမိတစ်ဦးတည်းဖြစ်စေ၊ မည်သည့်ပြည်တွင်း ပြည်ပပုဂ္ဂိုလ်များနှင့် ဖက်စပ်၍ဖြစ်စေ လုပ်ကိုင် ဆောင်ရွက်ရန်–

(၁) မည်သည့်ဖုံများ၊ စက်ရုံများ၊ လုပ်ငန်းဌာနများအတွက်မဆို ယင်းတို့၏ပါတ်ဝန်းကျင်ထိန်းသိမ်းရေးအလို့ငှာ ဓါတ်ခွဲခန်း ဖြင့် ရှာဖွေခြင်း၊ လေ့လာစမ်းသပ်ခြင်း၊ စီစစ်သုံးသပ်ခြင်း၊ ပြုပြင်ထိမ်းသိန်းခြင်းပြုလုပ်ကာ ရေ၊ ရေဆိုး၊ မသန့်သော လေများအတွက် ဆောင်ရွက်ပေးခြင်း၊ လိုအပ်သောရေဆိုး လေဆိုးများကို ချေဖျက်သည့် စက်၊ ကိရိယာပစ္စည်းများကို ဖြည့်ဆည်းပေးခြင်းများကို ဆောင်ရွက်ရန်။

(၂) အေဂျင်စီလုပ်ငန်း၊ ကျွမ်းကျင်မှုအတိုင်ပင်ခံများ၊ လုပ်ငန်းအတိုင်ပင်ခံများ၊ အုပ်ချုပ်မှုအတိုင်ပင်ခံများနှင့် အကြံပေး ဝန်ဆောင်မှု လုပ်ငန်းများ။

(၃) စိမ်ကိန်းသစ်များ၌ ဖြစ်မြောက်နိုင်စွမ်း ရှိ–မရှိ လေ့လာခြင်း၊ စီမံကိန်းပုံစံများ ချမှတ်ခြင်း၊ စီမံကိန်းကုန်ကျစရိတ် ခန့်မှန်းခြင်း၊ တန်ဖိုးတွက်ချက်ခြင်း၊ တိုင်းပြည်လူသားအရင်းအမြစ် ဖွံ့ဖြိုးတိုးတက်ရေးအတွက် လိုအပ်သောသင်တန်း များပေးကာ စီမံကိန်းလုပ်ငန်းများတွင် နည်းပညာနှင့် လူအင်အားများဖြည့်ဆည်းပေးခြင်းလုပ်ငန်းများ၊

(၄) ကုန်ပစ္စည်းများ၊ လုပ်ငန်းများ၊ ဝန်ဆောင်မှုများတို့၏အရည်အသွေးနှင့် အရည်အတွက်တို့ကိုတိုင်းတာခြင်း၊ စစ်ဆေးခြင်း /စုံစမ်းစစ်ဆေးခြင်း၊ စမ်းသပ်ခြင်းနှင့် ယင်းလုပ်ငန်းများအတွက် သက်သေခံလက်မှတ်ထုတ်ပေးခြင်း၊ အစီရင်ခံစာရေး ခြင်း၊ လိုအပ်ချက်များကိုပြုပြင်ရန် အကြံပေးခြင်းလုပ်ငန်းများ။

(၅) ဈေးကွက်စူးစမ်းခြင်း၊ ဈေးကွက်သုတေသန၊ တွေ့ဆုံမိတ်ဆက်ပေးခြင်း၊ ဆွေးနွေးပွဲများ၊ အလုပ်ရုံဆွေးနွေးပွဲများ၊ ပညာရပ်ဆိုင်ရာဆွေးနွေးပွဲများ၊ သရုပ်ပြပွဲများ၊ ပြခန်းများစသည်တို့ကို စီစဉ်ပေးသည့်လုပ်ငန်းများ။

(၆) ကုန်စည်များကိုအချိန်တိုအတွင်းကုန်ကျစရိတ်အနည်းဆုံး၊ပျက်စီးဆုံးရှုံးမှုမရှိထောက်ပံ့ခြင်း၊ ကုန်စီမံခန့်ခွဲခြင်းနှင့်စီမံကိန်း ရေးဆွဲသည့်လုပ်ငန်းများ၊ အစိုးရအဖွဲ့အစည်းများကခွင့်ပြုသည့် ပို့ဆောင်ရေးလုင်ငန်းများ အထူးသဖြင့်ကားငှားခြင်း၊ မိမိကားများအား ပြုပြင်ခြင်းလုပ်ငန်းများ။

(၇) ယာဉ်များ၊ စက်၊ စက်ကိရိယာများ၊ လျှပ်စစ်ပစ္စည်း၊ အီလက်ထရောနစ်ကုန်ပစ္စည်းများကိုဝန်ဆောင်မှုပေးခြင်း၊ ကြံ့ခိုင်ရေးပြုလုပ် ခြင်း၊ မွမ်းမံခြင်း၊ ပြင်ဆင်ခြင်းနှင့်ငှားရမ်းသည့်လုပ်ငန်းများ။

(၈) အဆောက်အဦး၊ လမ်း၊ တူးမြောင်း၊ ရေလမ်းကြောင်း၊ ရေလှောင်တမံ၊ ဆည်မြောင်း၊ ဆိပ်ခံတံတား၊ သင်္ဘောဆိပ် စသည်များနှင့်စပ်လျဥ်းပြီးပုံဆွဲခြင်း၊ မြေပုံဆွဲခြင်း၊ ပုံထုတ်ခြင်း၊ မြေပြုပြင်ခြင်း၊ ဥယျာဥ်စိုက်ခြင်း၊ ဖြိုချခြင်း၊ ဆေးသုတ်ခြင်း၊ ဆေးအလှခြယ်ခြင်း၊ ဆောက်လုပ်ခြင်း၊ကန်ထရိုက် သို့မဟုတ်ထပ်ဆင့်ကန်ထရိုက်ပြုခြင်း လုပ်ငန်းများ။

(၉) ရွှေ၊ ငွေ၊ ကြေး၊ သံရိုင်း၊ ကျောက်မီးသွေး၊ အလှဆင်ကျောက်၊ ဂရက်နိုက်ကျောက်နှင့် တွင်းထွက်သတ္တုများ၊ ရေနံနှင့် ဓါတ်ငွေ့၊ နေရောင်ခြည်စွမ်းအင်၊ လေစွမ်းအင်၊ ရေအားလျှပ်စစ်၊ မြေအပူစွမ်းအင်စသော သဘာဝစွမ်းအင်အရင်းအမြစ် တို့နှင့်စပ်လျဥ်းပြီးစူးစမ်းခြင်း၊ ရှာဖွေခြင်း၊ ဖြစ်နိုင်ခြေလေ့လာခြင်း၊ တစ်ဝက်တစ်ပျက်ကုန်ချော၊ ကုန်ချော၊ ဘေးထွက် ပစ္စည်းများကိုထုတ်လုပ်ခြင်း၊ သန့်စင်ခြင်း၊ သိုလှောင်ခြင်း၊ သယ်ယူပို့ဆောင်ခြင်း၊ ဈေးကွက်တင်ခြင်းများအတွက်ပုံစံ ထုတ်ခြင်းနှင့်အကြံပေးခြင်းလုပ်ငန်းများ။

(၁၀) ပုံနှိပ်ထုတ်ဝေခြင်း၊ ကြော်ငြာခြင်းနှင့် ယင်းတို့၏ကိုယ်စားလှယ်လုပ်ငန်းများ။

(၁၁) စားသောက်ဆိုင်၊ ဟိုတယ်စီမံခန့်ခွဲမှုနှင့် ယင်းနှင့်ပတ်သက်သည့်လုပ်ငန်းများ။

၇။ ကုမ္ပဏီမှသင့်လျော်လျောက်ပတ်သည်ဟုယူဆပါက ကုမ္ပဏီ၏စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့် ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ်၊ သို့မဟုတ်၊ ငွေကြေးအဖွဲ့အစည်းထံမှမဆို ငွေချေးယူရန်။

<u>ခြွင်းချက်</u>။ ကုမ္ပဏီသည်အထက်ဖော်ပြပါရည်ရွယ်ချက်များကို ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌ဖြစ်စေ၊ အခြားမည်သည့် အရပ်ဒေသ၌ဖြစ်စေ၊ အချိန်ကာလအလိုက်တည်မြဲနေသောတရားဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များကခွင့်ပြုထားသည့် လုပ်ငန်းများမှအပအခြားလုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင်ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း၌အချိန် ကာလအားလျော်စွာတည်မြဲနေသည့် တရားဥပဒေပြဌာန်းချက်များ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များနှင့် လျော်ညီသင့်တော်ခြင်း သို့မဟုတ် ခွင့်ပြုထားရှိခြင်းရှိမှသာလျှင် လုပ်ငန်းများကို ဆောင်ရွက်မည်ဟု ခြွင်းချက်ထားရှိပါသည်။

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ် နှင့် အကြောင်းအရာ စုံလင်စွာ ပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲဖော်ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာ နှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | <u>အေဝမ်းဆောက်လုပ်ရေးကုမ္ပဏီလီမိတက်</u><br>ကိုယ်စားပြုသူ :-<br><br>ဒေါ်သိ ' ဂီလင်း ( ဒါရိုက်တာ)<br>အမှတ် ၄၁ အေ ၊ ရွှေတောင်ကြားလမ်း၊ ရွှေတောင်ကြား (၂) ရပ် ကွက်၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့၊ မြန်မာနိုင်ငံ။. | မြန်မာကုမ္ပဏီ<br><br>မြန်မာ<br>၁၂/စခန(နိုင်)<br>၀၅၇၀၉၆ | ၅၀၁<br>(၃၃.၄%) | (signature) |
| 2. | **Goshu Kohsan Co., Ltd.**<br>Represented by:-<br><br>**Mr. Yoshihiko Hisamatsu**(Consultant)<br>374, 7-Chome, Nishi-Gotanda, Shinagawa-Ku, Tokyo, Japan. | Incorporated In Thailand<br><br>Japanese<br>TK1039399 | 999<br>(66.6%) | (signature) |

ရန်ကုန် မြို့။

နေ့စွဲ၊ ၂၀၁၄ -ခုနှစ်၊ အောက်တိုဘာလ [illegible] ရက်။

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

Sandar Aye

ဒေါ်စန္ဒာအေး

B.Com, C.P.A

Certified Public Accountant Auditors

စာအမှတ်..............

ရက်စွဲ..............

# မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

# ဂိုရှူး အေဝမ်း အီကို ဘစ္စနက်စ် ကုမ္ပဏီလီမိတက်

၏

# သင်းဖွဲ့စည်းမျဉ်းများ

——————

၁။ ဤသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲ ပထမဇယားပုံစံ "က" ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၁၇ (၂) တွင် ဖော်ပြပါရှိသည့် မလိုက်နာ မနေရ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် အစဉ်သဖြင့် သက်ဆိုင်စေရမည်။

### အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ

၂။ ဤကုမ္ပဏီသည် အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်၍ အောက်ပါသတ်မှတ်ချက်များသည် အကျိုး သက်ရောက်စေရမည်။

(က) ဤကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏ အစုရှင် အရေအတွက်ကို ငါးဆယ် အထိသာ ကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်) တစ်ခုခုအတွက် ငွေထည့်ဝင်ရန် အများပြည်သူတို့အား ကမ်းလှမ်းခြင်းမပြုလုပ်ရန် တားမြစ်ထားသည်။

### မ,တည်ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏ သတ်မှတ်မ,တည်ငွေရင်းသည် အမေရိကန်ဒေါ်လာ ၁၅၀၀,၀၀၀/-( ဒေါ်လာ တစ်သန်းခွဲတိတိ ) ဖြစ်၍ဒေါ်လာ ၁၀၀၀/- (ဒေါ်လာ တစ်ထောင်တိတိ)တန် အစုရှယ်ယာပေါင်း (၁၅၀၀)ခွဲထားပါသည်။ ကုမ္ပဏီ၏ရင်းနှီးငွေကို ကုမ္ပဏီ၏စည်းမျဉ်းများနှင့် လက်ရှိတရားဝင်တည်ဆဲဖြစ်နေသော တရားဥပဒေပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေသင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့်အာဏာရှိစေရမည်။ ဂိုရှူးကိုးစံကုမ္ပဏီလီမိတက်သည် အစုပေါင်း၉၉၉စု (၆၆.၆%)ကိုလည်းကောင်း၊ အေဝမ်းဆောက်လုပ်ရေးကုမ္ပဏီလီမိတက်သည် စုစုပေါင်း၅၀၁စု (၃၃.၄%) ကိုလည်းကောင်း အမေရိကန် ဒေါ်လာဖြင့်ထည့်ဝင်ကြရမည်။

၄။ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေပါပြဋ္ဌာန်းချက်များကိုမထိခိုက်စေလျက် အစုရှယ်ယာများသည်ဒါရိုက်တာများ၏ကြီးကြပ် ကွပ်ကဲမှုအောက်တွင် ရှိစေရမည်။ ၄င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက် အခြေအနေ တစ်စုံတစ်ရာဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်း တို့ကို ဆောင်ရွက်နိုင်သည်။

၅။ အစုရှယ်ယာလက်မှတ်များကို အထွေထွေမန်နေဂျာ သို့မဟုတ် ဒါရိုက်တာအဖွဲ့က သတ်မှတ်သည့် အခြားပုဂ္ဂိုလ်များကလက်မှတ်ရေးထိုး၍ ကုမ္ပဏီ၏တံဆိပ် ရိုက်နှိပ်ထုတ်ပေးရမည်။ အစုရှယ်ယာ လက်မှတ်သည် ပုံပန်းပျက်ခြင်း၊ ပျောက်ဆုံးခြင်း၊ သို့မဟုတ် ပျက်စီးခြင်းဖြစ်ပါက အဖိုးအခဖြင့် ပြန်လည်အသစ်ပြုလုပ်ပေးမှုကို သော်လည်းကောင်း ဒါရိုက်တာများက သင့်လျော်သည်ဟု ယူဆသော အခြားသက်သေခံ အထောက်အထား တစ်စုံတစ်ရာကို တင်ပြစေ၍သော်လည်းကောင်း ထုတ်ပေးနိုင်သည်။ ကွယ်လွန်သွားသော အစုရှယ်ယာရှင်တစ်ဦး၏ တရားဝင် ကိုယ်စား လှယ်ကို ဒါရိုက်တာများက အသိအမှတ် ပြုပေးရမည်ဖြစ်သည်။

၆။ ဒါရိုက်တာများသည် အစုရှင်များက ၎င်းတို့၏ အစုရှယ်ယာများအတွက် မပေးသွင်းရသေးသော ငွေများကိုအခါအားလျော်စွာ တောင်းဆိုနိုင်သည်။ အစုရှင်တိုင်းကလည်း ၎င်းတို့ထံတောင်းဆိုသည့် အကြိမ်တိုင်း အတွက် ဒါရိုက်တာများက သတ်မှတ်သည့် ပုဂ္ဂိုလ်များထံ သတ်မှတ်သည့်အချိန်နှင့် နေရာတွင် ပေးသွင်းစေရန် တာဝန်ရှိစေ ရမည်။ ဆင့်ခေါ်မှုတစ်ခုအတွက် အရစ်ကျပေးသွင်းစေခြင်း၊ သို့မဟုတ် ပယ်ဖျက်ခြင်း သို့မဟုတ် ရွှေ့ဆိုင်းခြင်းတို့ကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။

## ဒါရိုက်တာများ

၇။ သင်းလုံးကျွတ်အစည်းအဝေးက တစ်စုံတစ်ရာသတ်မှတ်ပြဋ္ဌာန်းမှုမပြုလုပ်သမျှ ဒါရိုက်တာများ၏အရေအတွက်သည် (၂)ဦးထက် မနည်း၊(၅)ဦးထက်မများစေရ။ဒါရိုက်တာဖြစ်ရန်အတွက်ကုမ္ပဏီတွင်၎င်းတို့အမည်ဖြင့်အစုရှယ်ယာကိုင်ဆိုင်ရန်မလိုအပ်ပါ။ ပထမဒါရိုက်တာများသည် –

(၁) ဦးရန်ဝင်း (အဝေမ်းဆောက်လုပ်ရေးကုမ္ပဏီလီမိတက်)

(၂) ဒေါ် သီ ဂီ လင်း (အဝေမ်းဆောက်လုပ်ရေးကုမ္ပဏီလီမိတက်)

(၃) Mr. Ariruth Isariyakunakorn (ဂိုရှူးကိုးစ်ကုမ္ပဏီလီမိတက်)

(၄) Mr. Takashi Kondo (ဂိုရှူး ကိုးစ်ကုမ္ပဏီလီမိတက်)

(၅) Mr. Yoshihiko Hisamatsu (ဂိုရှူး ကိုးစ်ကုမ္ပဏီလီမိတက်)တို့ဖြစ်ကြပါသည်။

၈။ ဒါရိုက်တာများသည်၎င်းတို့အနက်မှသဘာပတိတစ်ဦး၊ဒုတိယသဘာပတိနှစ်ဦးနှင့်ဒါရိုက်တာများကိုအချိန်အခါအလိုက် သင့်လျော်သော သတ်မှတ် ချက်များ၊ ဥဏ်ပူဇော်ခများဖြင့်ခန့်ထားရမည်ဖြစ်ပြီး အခါအားလျော်စွာ ဒါရိုက်တာအဖွဲ့က ပေးအပ်သော အာဏာများအား လုံး ကို ၎င်းတို့က အသုံးပြုနိုင်သည်။

၉။ အစုရှယ်ယာများ လွှဲပြောင်းရန် တင်ပြချက်ကို မည်သည့် အကြောင်းပြချက်မျှ မပေးဘဲ ဒါရိုက်တာအဖွဲ့သည် ၎င်းတို့၏ပြည့်စုံ၍ ချုပ်ချယ်ခြင်းကင်းသော ဆင်ခြင်တွက်ဆမှုဖြင့် မှတ်ပုံတင်ရန် ငြင်းဆိုနိုင်သည်။

## ဒါရိုက်တာများ၏ ဆောင်ရွက်ချက်များ

၁၀။ သဘာပတိသည်၎င်း၏သင့်တော်သည်ထင်သည့်သဘောအရဖြစ်စေ၊ဒါရိုက်တာများ၏တင်ပြချက်အရဖြစ်စေအစည်းအဝေးခေါ်ကာဦးစီးဆောင်ရွက်ရမည်။သဘာပတိကသည်ယင်းသို့ အစည်းအဝေးခေါ်ခြင်း၊အစည်းအဝေးကျင်းပပေးခြင်းမပြုနိုင်ပါကဒုတိယသဘာပတိကဆောင်ရွက်ပေးရမည်။သဘာပတိသို့မဟုတ်အစုရှင်များ၏အစည်းအဝေးကအခြား ဆုံးဖြတ်ထားခြင်းမရှိပါက ဒါရိုက်တာများ၏အစည်းအဝေးကိုလစဉ်ကျင်းပရမည်။

၁၁။ ဒါရိုက်တာတစ်ဦးအစည်းအဝေးမတက်နိုင်ပါက ကုမ္ပဏီ ၏အခြားဒါရိုက်တာတစ်ဦးအား၎င်း၏ကိုယ်စားတက်ရောက်စေခွင့်ရှိရမည်။

၁၂။ ဒါရိုက်တာအဖွဲ့၏မည်သည့် အစည်း အဝေးတွင်မဆိုအနည်းဆုံးတက်ရောက်ရမည့်အရေအတွက်မှာ တစ်ဖက်မှတစ်ဦးစီ ပါဝင်သည့် စုစုပေါင်း ဒါရိုက်တာနှစ်ဦးတက်ရောက်လျှင် အစည်းအဝေးအထမြောက်ရမည်။ဒါရိုက်တာများ၏အစည်းအဝေးတွင် တက်ရောက်သော ဒါရိုက်တာအများစု၏မဲဖြင့်ဆုံးဖြတ်ရမည်။မည်သည့်ကိစ္စများကို မဆို မဲခွဲဆုံးဖြတ်ရာတွင် မဲအရေအတွက် တူနေပါက သဘာပတိသည် ဒုတိယမဲ သို့မဟုတ် အနိုင်မဲကို ပေးနိုင်သည်။

၁၃။ ဒါရိုက်တာအားလုံးက လက်မှတ်ရေးထိုးထားသော ရေးသားထားသည့် ဆုံးဖြတ်ချက်တစ်ရပ်သည် နည်းလမ်းတကျ ခေါ်ယူကျင်းပသော အစည်းအဝေးကအတည်ပြုသည့် ဆုံးဖြတ်ချက်ကဲ့သို့ပင် ကိစ္စအားလုံးအတွက် အကျိုးသက်ရောက်စေရမည်။

## ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့်တာဝန်များ

၁၄။ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲ ဇယားပုံစံ(က)ပါ စည်းမျဉ်းအပိုဒ် ၇၁တွင် ပေးအပ်ထားသော အထွေထွေအာဏာများကို မထိခိုက်စေဘဲ ဒါရိုက်တာများသည် အောက်ဖော်ပြပါ အာဏာများရှိရမည်ဟု အတိအလင်း ထုတ်ဖော်ကြေညာသည်။ အာဏာဆိုသည်မှာ-

(၁) ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆသော တန်ဖိုးနှင့်စည်းကမ်းများ၊ အခြေအနေများ သတ်မှတ်၍ ကုမ္ပဏီကရယူရန် အာဏာရှိသည့် မည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို ဝယ်ယူရန် သို့မဟုတ် အခြားနည်းလမ်းများဖြင့် ရယူပိုင်ဆိုင်ရန်အပြင် ကုမ္ပဏီက ပိုင်ဆိုင်ခွင့်ရှိသော မည်သည့်ပစ္စည်း၊ အခွင့်အရေးများ၊ အခွင့်အလမ်းများကိုမဆို သင့်တော်သောစည်းကမ်းချက်များ သတ်မှတ်၍ရောင်းချခြင်း၊ အငှားချခြင်း၊ စွန့်လွှတ်ခြင်း (သို့မဟုတ်) အခြားနည်းလမ်းများဖြင့် ဆောင်ရွက်ခြင်းတို့ကိုပြုလုပ်ရန်။

(၂) သင့်လျော်သော စည်းကမ်းသတ်မှတ်ချက်များဖြင့် ငွေကြေးများကို ချေးငှားရန်(သို့မဟုတ်)အဆိုပါချေးငှားသော ငွေကြေးများကို ပြန်လည်ပေးဆပ်ရန်အတွက် အာမခံများထားရှိရန်အပြင် အထူးသဖြင့် ဤကုမ္ပဏီ၏ ဒီဘင်ချာများ၊ ဒီဘင်ချာစတော့များ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများအပါအဝင် ယခုလက်ရှိနှင့် နောင်ရှိမည့် ပစ္စည်းများ အားလုံး(သို့မဟုတ်)တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ ထုတ်ဝေရန်။

(၃) ဤကုမ္ပဏီက ရယူထားသော အခွင့်အရေးများ (သို့မဟုတ်) ဝန်ဆောင်မှုများအတွက် အားလုံး(သို့မဟုတ်)တစ်စိတ်တစ်ဒေသကိုငွေကြေးအားဖြင့်ပေးချေရန်(သို့မဟုတ်)အစုရှယ်ယာများ၊ ငွေချေးစာချုပ်များ၊ ဒီဘင်ချာများ(သို့မဟုတ်) ဤကုမ္ပဏီ၏အခြားသော အာမခံစာချုပ်များကို ထုတ်ပေးရန် ထိုအပြင် အဆိုပါအစုရှယ်ယာများထုတ်ပေးရာ၌ ငွေအပြည့်ပေးသွင်းပြီးသောအစုရှယ်ယာအနေဖြင့်သော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသပေးသွင်းပြီးသော အစုရှယ်ယာအနေဖြင့်သော်လည်းကောင်း၊ သဘောတူညီသကဲ့သို့ ထုတ်ဝေပေးရန်နှင့် အဆိုပါငွေချေးစာချုပ်များ ဒီဘင်ချာများ (သို့မဟုတ်) ဤကုမ္ပဏီ၏အခြားသော အာမခံစာချုပ်များဖြင့်ထုတ်ဝေပေးရာ၌ ခေါ်ဆိုခြင်းမပြုရသေးသော ရင်းနှီးငွေများအပါအဝင် ဤကုမ္ပဏီ၏ပစ္စည်းအားလုံး(သို့မဟုတ်) တစ်စိတ်တစ်ဒေသကို အပေါင်ပြု၍ဖြစ်စေ ထိုကဲ့သို့မဟုတ်ဘဲဖြစ်စေ ထုတ်ပေးရန်။

(၄) ဤကုမ္ပဏီနှင့် ပြုလုပ်ထားသော ကန်ထရိုက်စာချုပ်များ၊ တာဝန်ယူထားသည့်လုပ်ငန်းများပြီးစီးအောင်ဆောင်ရွက်စေခြင်းအလို့ငှာ ခေါ်ယူခြင်းမပြုရသေးသော ရင်းနှီးငွေများအပါအဝင် ဤကုမ္ပဏီ၏ပစ္စည်းရပ်များအားလုံး(သို့မဟုတ်) အစုရှယ်ယာများအတွက် ငွေများတောင်းခံခေါ်ယူ၍သော်လည်းကောင်း၊ ခွင့်ပြုရန်(သို့မဟုတ်)သင့်လျော်သည့်အတိုင်း ဆောင်ရွက်ရန်။

(၅) မန်နေဂျာများ၊ အတွင်းရေးမှူးများ၊ အရာရှိများ၊ စာရေးများ၊ ကိုယ်စားလှယ်များနှင့် ဝန်ထမ်းများကို အမြဲတမ်း၊ ယာယီ(သို့မဟုတ်)အထူးကိစ္စရပ်များအတွက် ခန့်ထားခြင်း၊ ရပ်စဲခြင်း၊ ဆိုင်းငံ့ခြင်းများအတွက်လည်းကောင်း၊ အဆိုပါပုဂ္ဂိုလ်တို့၏ တာဝန်များ၊ အာဏာများ၊ လစာငွေများ၊ အခြားငွေကြေးများကို သတ်မှတ်ရာ၌လည်းကောင်း၊ အာမခံပစ္စည်းများ တောင်းခံရာ၌လည်းကောင်း သင့်လျော်သလိုဆောင်ရွက်ရန် ထိုအပြင် အဆိုပါကိစ္စရပ်များအတွက် ကုမ္ပဏီ၏ မည်သည့်အရာရှိကိုမဆို ကိစ္စရပ်အားလုံးကိုဖြစ်စေ၊ တစ်စိတ်တစ်ဒေကိုဖြစ်စေ ဒါရိုက်တာများ၏ ကိုယ်စား ဆောင်ရွက်နိုင်ရေးအတွက် တာဝန်လွှဲအပ်ရန်။

(၆) ဤကုမ္ပဏီ၏ ဒါရိုက်တာတစ်ဦးအား ဒါရိုက်တာရာထူးနှင့်တွဲဖက်၍ သဘာပတိ၊ ဒုတိယသဘာပတိ အထွေထွေမန်နေဂျာ၊ အတွင်းရေး မှူး(သို့မဟုတ်) ဌာနခွဲမန်နေဂျာအဖြစ် ခန့်ထားရန်။

(၇) မည်သည့်အစုရှင်ထံမှမဆို ၎င်းတို့၏ အစုရှယ်ယာများအားလုံးကိုဖြစ်စေ တစ်ချို့တစ်ဝက်ကိုဖြစ်စေ စွန့်လွှတ်ခြင်းအား သဘောတူညီသောစည်းကမ်းများဖြင့် လက်ခံရန်။

(၈) ဤကုမ္ပဏီက ပိုင်ဆိုင်သော သို့မဟုတ် ပိုင်ဆိုင်ခွင့်ရှိသော သို့မဟုတ် အခြားအကြောင်းများကြောင့်ဖြစ်သော မည်သည့်ပစ္စည်းကိုမဆို ကုမ္ပဏီ၏ကိုယ်စား လက်ခံထိန်းသိမ်းထားရန်အတွက် မည်သည့်ပုဂ္ဂိုလ် သို့မဟုတ် ပုဂ္ဂိုလ်များကိုမဆို ခန့်ထားရန်နှင့် အဆိုပါယုံမှတ်အပ်နှံခြင်းများနှင့် ပတ်သက်၍ လိုအပ်သော စာချုပ်စာတမ်းများ ချုပ်ဆိုပြုလုပ်ရန်။

(၉) ဤကုမ္ပဏီ၏ အရေးအရာများနှင့်စပ်လျဉ်း၍ ဤကုမ္ပဏီကပြုလုပ်သော သို့မဟုတ် ဤကုမ္ပဏီပေါ် သို့မဟုတ် ဤကုမ္ပဏီ၏ အရာရှိအပေါ် ပြုလုပ်သော တရားဥပဒေအရ စွဲဆိုဆောင်ရွက်မှုများကို တရားစွဲဆို၊ အရေယူ၊ ခုခံကာကွယ်ရန် သို့မဟုတ် ခွင့်လွှတ်ရန်၊ ထို့အပြင် ဤကုမ္ပဏီက ရရန်ရှိသော ကြွေးမြီများနှင့် ဤကုမ္ပဏီအပေါ်တောင်းခံသော ကြွေးမြီများနှင့်ပါတ်သက်၍ ပေးဆပ်ရန် အချိန်ကာလရွှေ့ဆိုင်းခွင့်ပြုခြင်း သို့မဟုတ် နှစ်ဦးနှစ်ဖက်သဘောတူ ကျေအေးခြင်းများပြုလုပ်ရန်။

(၁၀) ဤကုမ္ပဏီက ပေးရန်ရှိသော သို့မဟုတ် ရရန်ရှိသော ငွေတောင်းခံခြင်းများကို ဖြန်ဖြေရေး ခုံသမာဓိထံသို့ ဖြေရှင်းရန်အတွက် အပ်နှံရန်အပြင် ဖြန်ဖြေရေးခုံသမာဓိ၏ ဆုံးဖြတ်ချက်အတိုင်း လိုက်နာဆောင်ရွက်ရန်။

(၁၁) ဤကုမ္ပဏီကရရန်ရှိသော တောင်းဆိုချက်တောင်းခံချက်များနှင့် ကုမ္ပဏီသို့ပေးရန်ရှိသော ငွေကြေးများအတွက် ပြေစာများပြုလုပ်ခြင်း၊ လျော်ပစ်ခြင်းနှင့် အခြားသောနည်းဖြင့် စွန့်လွှတ်ခြင်းများကို ပြုလုပ်ရန်။

(၁၂) လူမွဲစာရင်းခံရခြင်း၊ ကြွေးမြီးမဆပ်နိုင်ခြင်းကိစ္စများနှင့် ပတ်သက်၍ ကုမ္ပဏီ၏ကိုယ်စားဆောင်ရွက်ရန်။

(၁၃) ငွေလွှဲစာတမ်းများ၊ ချက်လက်မှတ်များ၊ ဝန်ခံကတိစာချုပ်များ၊ ထပ်ဆင့်လက်မှတ်ရေးထိုးခြင်းများ၊ လျှော်ပစ်ခြင်းများ၊ ကန်ထရိုက်စာချုပ်များနှင့် စာရွက်စာတမ်းများကို ကုမ္ပဏီ၏ကိုယ်စားမည်သူကလက်မှတ်ရေးထိုးခွင့်ရှိသည်ကို စီစစ်သတ်မှတ်ရန်။

(၁၄) ဒါရိုက်တာများက သင့်လျော်သည်ဟုယူဆပါက သင့်လျော်လျှောက်ပတ်သောနည်းလမ်းများဖြင့် လတ်တလော အသုံးပြုရန် မလိုသေးသော ကုမ္ပဏီပိုင်ငွေများကို အာမခံပစ္စည်းပါသည်ဖြစ်စေ မပါသည်ဖြစ်စေ ရင်းနှီးမြှုပ်နှံထားရန်နှင့် စီမံခန့်ခွဲထားရန်၊ ထိုအပြင် အချိန်ကာလအားလျော်စွာ မြှုပ်နှံထားသော ငွေများကို ပြန်လည်ရယူရန်နှင့် ပြင်ဆင်ပြောင်းလွဲရန်။

(၁၅) ဤကုမ္ပဏီ၏ အကျိုးအတွက် ငွေကြေးစိုက်ထုတ်ကုန်ကျခံထားသော ဒါရိုက်တာ သို့မဟုတ် အခြားပုဂ္ဂိုလ်များ က (လက်ရှိနောင်တွင်ရှိမည့်) ပစ္စည်းများကို ဤကုမ္ပဏီ၏ အမည်ဖြင့်ဖြစ်စေ ဤကုမ္ပဏီ၏ ကိုယ်စားဖြစ်စေ ပေါင်နှံခြင်းကို သင့်လျော်သည်ဟုယူဆပါက ဆောင်ရွက်ခွင့်ပြုရန် အဆိုပါပေါင်နှံခြင်းဆိုရာ၌ ရောင်းချနိုင်သည့် အာဏာနှင့် အခြားသော သဘောတူညီထားသည့် တရားဝင်သဘောတူညီချက်များနှင့် ဥပဒေပြဋ္ဌာန်းချက်ပါ ပါဝင်သည်။

(၁၆) ဤကုမ္ပဏီက ခန့်အပ်ထားသော မည်သည့်အရာရှိ သို့မဟုတ် ပုဂ္ဂိုလ်ကိုမဆို အတိအကျ ဆောင်ရွက်ခဲ့သော လုပ်ငန်း သို့မဟုတ် ဆောင်ရွက်မှုတစ်ခုအတွက် ရရှိသောအမြတ်ငွေမှ ကော်မရှင်ပေးခြင်း သို့မဟုတ် ကုမ္ပဏီ ၏ အထွေထွေအမြတ်အစွန်းမှ ခွဲဝေပေးခြင်းများပြုလုပ်ရန်နှင့် အဆိုပါကော်မရှင်များ အမြတ်များခွဲဝေပေးခြင်း စသည်တို့ကို ဤကုမ္ပဏီ၏လုပ်ငန်းကုန်ကျစရိတ် တစ်စိတ်တစ်ဒေသအဖြစ်သတ်မှတ်ရန်။

(၁၇) ဤကုမ္ပဏီ၏လုပ်ငန်းများ၊ အရာရှိများ၊ ဝန်ထမ်းများနှင့် အစုရှင်များအတွက် ထုတ်ပြန်ထားသော စည်းမျဉ်း များ၊ စည်းကမ်းများ၊ စည်းကမ်းဥပဒေများကို အခါအားလျော်စွာ သတ်မှတ်ခြင်း၊ ပြင်ဆင်ခြင်း၊ ဖြည့်စွက်ခြင်းများဆောင်ရွက်ရန်။

(၁၈) ဤကုမ္ပဏီ၏လုပ်ငန်းအတွက် ဤကုမ္ပဏီ၏အမည်ဖြင့်ဖြစ်စေ ဤကုမ္ပဏီ၏ကိုယ်စားဖြစ်စေ လိုအပ်သည်ဟုယူဆလျှင် ညှိနှိုင်းဆွေးနွေးခြင်းနှင့် ကန်ထရိုက်စာချုပ်ချုပ်ဆိုခြင်းများကိုပြုလုပ်ရန်၊ ဖျက်သိမ်းရန်နှင့် ပြင်ဆင်ရန်အပြင် အဆိုပါဆောင်ရွက်ချက်စာချုပ်များနှင့် ကိစ္စရပ်များကိုလည်းကောင်း၊ ၎င်းတို့နှင့်စပ်လျဉ်းသော ကိစ္စရပ်များကိုလည်းကောင်းလုပ်ကိုင်ဆောင်ရွက်ရန်။

(၁၉) ဒါရိုက်တာများက သင့်လျော်လျောက်ပါတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန် အတွက် မည်သည့်ပြည်တွင်း၊ ပြည်ပပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ သို့မဟုတ် ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှမဆိုငွေချေးယူရန်။

အထွေထွေအစည်းအဝေးကြီးများ

၁၅။ ကုမ္ပဏီကိုဥပဒေအရ ဖွဲ့စည်းတည်ထောင်ပြီးသည့်နေ့မှတစ်ဆယ့်ရှစ်လအတွင်း အထွေထွေသင်းလုံးကျွတ် အစည်းအဝေးကြီးကို ကျင်းပရမည်။ ထို့နောက်ဒါရိုက်တာအဖွဲ့က သတ်မှတ်ပေးသည့်အချိန်နှင့် နေရာများတွင် ပြက္ခဒိန်နှစ် တစ်နှစ်လျှင် အနည်းဆုံးတစ်ကြိမ်( နောက်ဆုံးကျင်းပသည့်အထွေထွေအစည်းအဝေးကြီးနှင့် တစ်ဆယ့်ငါးလထက်မပိုသည့်အချိန်၌) ကျင်းပရမည်။ သင်းလုံးကျွတ်အစည်းအဝေးစတင်၍ လုပ်ငန်းအတွက်ဆွေးနွေးချိန်တွင် အစည်းအဝေးအထမြောက် ရန်သတ်မှတ်သည့်အစုရှင်အရေအတွက် မတက်ရောက်သော မည်သည့်သင်းလုံးကျွတ်အစည်းအဝေးတွင်မဆို လုပ်ငန်းနှင့်ပတ်သက်၍ ဆုံးဖြတ်ဆောင်ရွက်ခြင်းမပြုရ။ ဤတွင် အခြားနည်း သတ်မှတ်ပြဋ္ဌာန်းခြင်းမရှိလျှင် ထုတ်ဝေထားသည့် မတည်ရင်းနှီးငွေ အစုရှယ်ယာများ၏ ငါးဆယ်ရာခိုင်နှုန်းထက်မနည်း ပိုင်ဆိုင်ကြသည့် (တစ်ဖက်လျှင် တစ်ဦးစီပါဝင်သော နှစ်ဦးထက်မနည်းသော) အစုရှင်များ ကိုယ်တိုင်တက်ရောက်လျှင် လုပ်ငန်းကိစ္စအားလုံး ဆောင်ရွက်ရန်အတွက် အစည်းအဝေးအထမြောက်သည့်ဦးရေဖြစ်သည်။ အကယ်၍ ကုမ္ပဏီတွင် အစုရှင်အရေအတွက် နှစ်ဦးတည်းသာရှိသည့်ကိစ္စတွင်မူ ထိုနှစ်ဦးတည်းသည်ပင်လျှင် အစည်းအဝေးအထမြောက်ရန် သတ်မှတ်ထားသည့်အရေအတွက် ဖြစ်စေရမည်။

အမြတ်ဝေစုများ

၁၆။ သင်းလုံးကျွတ်အစည်းအဝေးတွင် ဤကုမ္ပဏီ၏ အစုရှင်များအားခွဲဝေပေးမည့် အမြတ်ဝေစုကိုကြေငြာရမည်။ သို့ရာတွင် အမြတ်ဝေစုသည် ဒါရိုက်တာများက ထောက်ခံသော ငွေပမာဏထက် မကျော်လွန်စေရ။ သက်ဆိုင်ရာနှစ်၏ အမြတ်ပမာဏ သို့မဟုတ် အခြားမခွဲဝေရသေးသည့် အမြတ်ပမာဏမှအပ အမြတ်ဝေစုကို ခွဲဝေမပေးရ။

ရုံးဝန်ထမ်းများ

၁၇။ ကုမ္ပဏီသည် လုပ်ငန်းရုံးတစ်ခုကိုဖွင့်လှစ်၍ဆောင်ရွက်မည်ဖြစ်ပြီး အရည်အချင်းပြည့်မီသူပုဂ္ဂိုလ်တစ်ဦးအား အထွေထွေမန်နေဂျာအဖြစ် ခန့်အပ်ရန်နှင့် အခြားအရည်အချင်းပြည့်မီသူများအား ရုံးဝန်ထမ်းများအဖြစ် ခန့်အပ်မည်ဖြစ်သည်။ လစာ၊ ခရီးသွားလာစရိတ်နှင့် အခြားအသုံးစရိတ်များကဲ့သို့သော ဥာဏ်ပူဇော်ခများနှင့်အခကြေးငွေများကို ဒါရိုက်တာအဖွဲ့ကသတ်မှတ် မည်ဖြစ်ပြီး ၄င်းသတ်မှတ်ချက်များကို သင်းလုံးကျွတ်အစည်းအဝေးက အတည်ပြုရမည်။ အထွေထွေမန်နေဂျာသည် လုပ်ငန်းရုံး၏ ထိရောက်စွာလုပ်ငန်း လည်ပတ်မှုအားလုံးအတွက် တာဝန်ရှိစေရမည်ဖြစ်ပြီး သဘာပတိအား တာဝန်ခံ၍ ဆောင်ရွက်ရမည်။

ငွေစာရင်းများ

၁၈။ ဒါရိုက်တာများသည် သင့်လျော်သည့် ငွေစာရင်းစာအုပ်များကို အောက်ဖော်ပြပါ သတ်မှတ်ချက်များနှင့်အညီ ထားသိုထိန်းသိမ်း ဆောင်ရွက်ရမည်။

(၁) ကုမ္ပဏီ၏ ရငွေ၊ သုံးငွေများ၏ပမာဏနှင့် ၄င်းရငွေ၊ သုံးငွေများဖြစ်ပေါ်ခြင်းနှင့် စပ်လျဉ်းသည့် အကြောင်းကိစ္စ များ။

(၂) ကုမ္ပဏီ၏ ကုန်ပစ္စည်းများ ရောင်းချခြင်းနှင့် ဝယ်ယူခြင်းများ။

(၃) ဤကုမ္ပဏီ၏ ရရန်ပိုင်ခွင့်နှင့် ပေးရန်တာဝန်များ။

၁၉။ ငွေစာရင်းစာအုပ်အားလုံးကို ဤကုမ္ပဏီ၏ မှတ်ပုံတင်ထားသော လုပ်ငန်းရုံး သို့မဟုတ် ဒါရိုက်တာများက သင့်လျော်သည်ဟု ထင်မြင်ယူဆသော အခြားနေရာတွင်သိမ်းဆည်းထားရမည်ဖြစ်ပြီး၊ ရုံးချိန်အတွင်း၌ ဒါရိုက်တာများကစစ်ဆေးနိုင်ရန် ပြသထားရမည်။

စာရင်းစစ်

၂၀။ စာရင်းစစ်များကိုခန့်အပ်ထားရမည်။ ၄င်းစာရင်းစစ်များ၏တာဝန်သည် မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေ သို့မဟုတ် အခါအားလျော်စွာ ပြင်ဆင်သတ်မှတ်သည့် စည်းမျဉ်း စည်းကမ်းများနှင့် လိုက်လျောညီထွေဖြစ်ရမည်။

## နို့တစ်စာ

၂၁။ ဤကုမ္ပဏီသည် မည်သည့်အစုရှင်ထံသို့မဆို နို့တစ်စာကို လက်ရောက်ပေးအပ်ခြင်း သို့မဟုတ် နို့တစ်စာပါသောစာကို စာတိုက်ခ ကြိုတင်ပေးထား၍ ၎င်းအစုရှင်ထံ မှတ်ပုံတင်လိပ်စာအတိုင်း စာတိုက်မှတစ်ဆင့် လိပ်မူပေးပို့ခြင်းအားဖြင့် ပေးပို့နိုင်ပါသည်။

## တံဆိပ်

၂၂။ ဒါရိုက်တာများသည်ရုံးတံဆိပ်ကို လုံခြုံစွာထိန်းသိမ်းထားရန်အတွက် စီမံဆောင်ရွက်ရမည်။ ထိုတံဆိပ်ကို ဒါရိုက်တာများက ကြိုတင်ပေးအပ်ထားသည့် ခွင့်ပြုချက်ဖြင့်မှတပါး ထိုအပြင် အနည်းဆုံးဒါရိုက်တာ တစ်ဦး ရှေ့မှောက်တွင်မှ တပါး မည်သည့်အခါမျှမသုံးရ။ တံဆိပ်ရိုက်နှိပ်ထားသည့် စာရွက်စာတမ်းတိုင်းတွင် ထိုဒါရိုက်တာက လက်မှတ်ရေးထိုးရမည်။

## လျော်ကြေး

၂၃။ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေပုဒ်မ ၈၆(ဂ)တွင် ဖော်ပြပါရှိသည့် ပြဋ္ဌာန်းချက်များ လက်ရှိတရားဝင် တည်ဆဲဥပဒေ ပြဋ္ဌာန်းချက်များနှင့်မဆန့်ကျင်စေဘဲ ကုမ္ပဏီ၏ဒါရိုက်တာ၊ စာရင်းစစ်၊ အတွင်းရေးမှူး သို့မဟုတ် အခြားအရာရှိ တစ်ဦးဦးမှ မိမိတာဝန် ဝတ္တရားများကိုဆောင်ရွက်ရာ၌ဖြစ်စေ ထိုတာဝန်ဝတ္တရားများနှင့်စပ်လျဉ်း၍ဖြစ်စေကျခံခဲ့ရသည့် စရိတ်များ၊ တောင်းခံ ငွေများ၊ ဆုံးရှုံးငွေများ၊ ကုန်ကျငွေများနှင့် ကြွေးမြီတာဝန်များအတွက် ကုမ္ပဏီထံမှလျော်ကြေးရ ထိုက် ခွင့်ရှိစေရမည်။

## ဖျက်သိမ်းခြင်း

၂၄။ ကုမ္ပဏီ၏ အထွေထွေအစည်းအဝေးဆုံးဖြတ်ချက်ဖြင့် ကုမ္ပဏီအားဖျက်သိမ်းနိုင်သည်။ ယင်းသို့ ဖျက်သိမ်းရာတွင် မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေများနှင့် ယင်းဥပဒေများအား အခါအားလျော်စွာ ပြင်ဆင်ပြောင်းလဲထားသည့် တရားဥပဒေများတွင်ပါဝင်သည့် စည်းမျဉ်းများအတိုင်း လိုက်နာပြုလုပ်ရမည်။

****************

အောက်တွင် အမည်၊ နိုင်ငံသား၊ နေရပ် နှင့် အကြောင်းအရာ စုံလင်စွာ ပါသော ဇယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့ ကိုယ်စီကိုယ်ငှသည် ဤသင်းဖွဲ့စည်းမျဉ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ အမည်အသီးသီးနှင့် ယှဉ်တွဲဖော်ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာ နှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | <u>အေဝမ်းဆောက်လုပ်ရေးကုမ္ပဏီလီမိတက်</u><br>ကိုယ်စားပြုသူ :-<br><br>ဒေါ်သိဂီလင်း ( ဒါရိုက်တာ)<br>အမှတ် ၄၁ အေ ၊ ရွှေတောင်ကြားလမ်း၊ ရွှေတောင်ကြား (၂) ရပ် ကွက်၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့၊ မြန်မာနိုင်ငံ။ | မြန်မာကုမ္ပဏီ<br><br><br>မြန်မာ<br>၁၂/စခန(နိုင်)<br>၀၅၇၀၉၆ | ၅၀၁<br>(၃၃.၄%) | |
| 2. | **Goshu Kohsan Co., Ltd.**<br>Represented by:-<br><br>**Mr. Yoshihiko Hisamatsu**(Consultant)<br>374, 7-Chome, Nishi-Gotanda, Shinagawa-Ku, Tokyo, Japan | Incorporated In Thailand<br><br>Japanese<br>TK1039399 | 999<br>(66.6%) | |

ရန်ကုန် မြို့။

နေ့စွဲ၊ ၂၀၁၄-ခုနှစ်၊ အောက်တိုဘာ လ၊ ၉ ရက်။

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

Certified Public Accountant ★ Auditors ★
တအမှတ်.............
ရက်စွဲ.............

Sander Aye
ဒေါ်စန္ဒာအေး
B.Com, C.P.A

PRIVATE COMPANY LIMITED BY SHARES

# Memorandum Of Association

OF

# Goshu - A1 Eco Business

# Company Limited

❖❖❖❖❖❖❖

1 The name of the Company is " **Goshu - A1 Eco Business Company Limited.**".

II. The registered office of the Company will be situated in the Union of Myanmar.

III. The object for which the Company is established are as on the next page.

IV. The liability of the members is limited.

V. The authorized capital of the Company is United States Dollar 1,500,000/- ( US $ One and Half Million Only ) divided into ( 1500 ) shares of US $ 1000 /- ( US $ One Thousand Only) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf. Goshu Kohsan Co., Ltd. shall hold 999 shares (66.6%) in US $, A1 Construction Co., Ltd. shall hold 501 shares(33.4%) in US$.

6. To carry on the following services either solely on its own or in joint-venture with any foreign or local Partners.

(1) **Business of surveying, testing, analyzing, maintenance with the help of laboratory, give treatment, supply required plants, equipment, incinerators for water, waste water, waste air treatment for healthy environment system of zones, factories, workplaces of any kind.**

(2) **Agency business, technical consultants, business consultants, management consultants and advisory services.**

(3) **Business of feasibility study on new projects, projects formulation, project appraisal, project implementation, project evaluation, supply of technology and well-trained / qualified personnel to the projects.**

(4) **Business of surveying , inspection / investigation, testing the quality, quantity and performance of commodities, enterprises and performances, and giving certificates or reports, advising corrective measures thereof.**

(5) **Business of market survey, market research, match making, conducting and arrangement of seminars, workshops, symposium, demostrations, showrooms**

(6) **Business of logistics, freight management and planning for freer flow of commodities at maximum speed with minimum cost, any kind of transport services if allowed by the Government organizations, especially car rental service, maintenance and repairing of own vehicles.**

7) **Business of servicing, maintenance, repairing, and leasing of vehicles, machine, machinery equipment, electrical and electronic products.**

8) **Business of drawing, mapping, designing, landscaping, gardening, demolition, painting, decoration, construction, contracting or sub-contracting of any building, road, tunnel, waterway, reservoir, dam, jetty, port, etc.**

(9) **Business of prospecting, exploration, feasibility study, designing, planning, advising for production, concentration, transport, storage, and marketing of semi-finished and finished products / by-products of minerals including , but not limited to gold, silver, copper, iron ore, coal, marble, granite, etc.. and energy of all kinds including oil & gas, solar, wind, hydro, and thermal powers, etc.**

10) **Business of printing, publishing, advertising, and its related activities.**

11) **Business of restaurant, hotel management, and related activities.,**

7. To borrow money for the benefit of the Company's business from any person. firm, company, bank or financial organization in the manners that the Company shall think fit..

**ROVISO** :Provided that the Company shall not exercise any of the above objects whether in the Republic of the Union of Myanmar or elsewhere, save in so far as it may be entitled so as to do in accordance with the Laws, Orders and Notifications in force from time to time and then only subject to such permission and or approval as may be prescribed by the laws, Orders and Notifications of the Union of Myanmar for the time being in force.

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Memorandum of Association, and we respectively agree to take the number of shares in the Capital of the Company set opposite our respective names.

| Sr. No. | Name, Address and Occupation of Subscribers | Nationality & N.R.C No. | Number of Shares taken | Signatures |
|---|---|---|---|---|
| 1. | **A1 Construction Co.,Ltd**<br>Represented by:-<br><br>**Daw Theingi Lin** ( Director)<br>No.41A, Shwe Taung Kyar Street,<br>Shwe Taung Kyarr Ward (2),<br>Bahan Township, Yangon, Myanmar | Myanmar<br>Company<br><br>Myanmar<br>12/SaKhaNa(N)<br>057096 | 501<br>(33.4%) | [signature] |
| 2. | **Goshu Kohsan Co., Ltd.**<br>Represented by:-<br><br>**Mr. Yoshihiko Hisamatsu**(Consultant)<br>374, 7-Chome, Nishi-Gotanda,<br>Shinagawa-Ku, Tokyo, Japan | Incorporated<br>In Thailand<br><br>Japanese<br>TK<br>1039399 | 999<br>(66.6%) | [signature] |

Yangon.

Dated the 9th day of Sept, 2014.

*It is hereby certified that the persons mentioned above put their signatures in my presence.*

Auditor Certified Public Accountant

SandarAye

ဒေါ်စန္ဒာအေး

B.Com, C.P.A

THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Articles Of Association

OF

# Goshu - A1 Eco Business Company Limited

❖❖❖❖❖❖❖

1. The regulations contained in Table 'A' in the First Schedule to the Myanmar Companies Act shall apply to the Company save in so far as such regulations which are inconsistent with the following Articles. The compulsory regulations stipulated in Section 17 (2) of the Myanmar Companies Act shall always be deemed to apply to the Company.

## PRVATE COMPANY

2. The Company is to be a Private Company and accordingly following provisions shall have effect:-

*(a) The number of members of the Company, exclusive of persons who are in the employment of the Company, shall be limited to fifty.*

*(b) Any invitation to the public to subscribe for any share or debenture or debenture stock of the Company is hereby prohibited.*

## CAPITAL AND SHARES

3. The authorized capital of the Company is United States Dollar 1,500,000/- ( US $ One and Half Million Only ) divided into ( 1500 ) shares of US $ 1000 /- ( US $ One Thousand Only) each, with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf. Goshu Kohsan Co., Ltd. shall hold 999 shares (66.6%) in US $, A1 Construction Co., Ltd. shall hold 501 shares(33.4%) in US$.

4. Subject to the provisions of the Myanmar Companies Act the shares shall be under the control of the Directors, who may allot or otherwise dispose of the same to such persons and on such terms and conditions as they may determine.

5. The certificate of title to share shall be issued under the Seal of the Company, and signed by the President or some other persons nominated by the Board of Directors. If the share certificate is defaced, lost of destroyed, it may be renewed on payment of such fee, if any, and on such terms, if any, as to evidence and indemnity as the Directors may think fit. The legal representative of a deceased member shall be recognized by the Directors.

6. The Directors may, from time to time make call upon the members in respect of any money unpaid on their shares, and each member shall be liable to pay the amount of every call so made upon him to the Company, and at the times and places appointed by the Directors. A call may be made payable by installments or may be revoked or postponed as the Directors may determine.

## DIRECTORS

7. Unless otherwise determined by a General Meeting the number of Director shall not be less than ( 2 ) and not more than ( 5 ).The qualification share of a director is not required in their own names. The First Directors shall be-

(1) U Yan Win ( A1 Construction Co., Ltd.)

(2) Daw Theingi Lin (A1 Construction Co., Ltd.)

(3) Mr. Ariruth Isariyakunakorn (Goshu Kohsan Co., Ltd.)

(4) Mr. Takashi Kondo (Goshu Kohsan Co., Ltd.)

(5) Mr. Yoshihiko Hisamatsu ( Goshu Kohsan Co., Ltd.)

8. The Directors may from time to time appoint ones of their body to the office of the President, Vice-Presidents, Directors for such terms and at such remuneration as they think fit and he shall have all the powers delegated to him by the Board of Directors from time to time.

9. The Board of Directors may in their absolute and uncontrolled discretion refuse to register any proposed transfer of shares without assigning any reason.

## PROCEEDINGS OF DIRECTORS

10 10. The president shall convene the Meetings of the Board of Directors on his own initiative or at the request of other directors, and shall take the chair of the Meetings. In the event that the President is unable to convene and/or attend the Meeting, the Vice-President shall convene the Meeting and take the chair of the Meeting. Unless provided otherwise by the President or the Meeting of Shareholders, the Meeting of the Board of Directors shall be held monthly.

11. In the event that any of the directors is unable to attend the Meetings of the Board of Directors, such director shall be able to have the other director of the Company attend the Meetings with a proxy given to him on behalf of such director.

12. A quorum for any Meeting of the Board of Directors shall be two consisting of one from either shareholding party. The resolution of the Board of Directors shall be adopted by a majority of directors presented. In case " for and against " are equally divided, such resolution shall be subject to the decision of the Chairman of the Board of Directors.

13. A resolution in writing signed by all the Directors shall be as effective for all purposes as a resolution passed out at meeting of the Directors, duly called, held and constituted.

## POWERS AND DUTIES OF DIRECTORS

14. Without prejudice to the general power conferred by Regulation 71 of the Table "A" of the Myanmar Companies Act, it is hereby expressly declared that the Directors shall have the following powers, that is to say power:-

(1) To purchase or otherwise acquire for the Company any property, rights or privileges which the Company is authorized to acquire at such price, and generally on such terms and conditions as they think fit; also to sell, lease, abandon or otherwise deal with any property, rights or privileges to which the Company may be entitled, on such terms and conditions as they may think fit.

(2) To raise, borrow or secure the payment of such sum or sums in such manner and upon such terms and conditions in all respects as they think fit and in particular by the issue of debentures or debenture stocks of the Company charged upon all or any part of the property of the Company (both present and future) including its uncalled capital for the time being.

(3) At their discretion, to pay for any rights acquired or services rendered to the Company, either wholly or partially in cash or in shares, bonds, debentures or other securities of the Company and any such shares may be issued either as fully paid up or with such amount credited as paid up thereon as may be agreed upon, and any such bonds, debentures or other securities may be either specifically changed upon all or any part of the property of the Company and its uncalled capital or not so charged.

(4) To secure the fulfillment of any contract or engagement entered into by the Company by mortgage or charge upon all or any of the property of the Company and its uncalled capital for the time being or by granting calls on shares or in such manner as they may think fit.

(5) To appoint at their discretion, remove or suspend such Managers, Secretaries, Officers, Clarks, Agents and Servants of permanent, temporary or special services as they may from time to time think fit and to determine their duties and powers and fix their salaries or emoluments and to require security in such instances in such amount as they think fit and to depute any officers of the Company to do all or any of these things on their behalf.

(6) To appoint a Director as President, Vice-President, General Manager, Secretary or Departmental Manager in conjunction with his Directorship of the Company.

(7) To accept from any member on such terms and conditions as shall be agreed on the surrender of his shares or any part thereof.

(8) To appoint any person or persons to accept and hold in trust for the Company any property belonging to the Company or in which it is interested or for any other purposes and to execute and do all such deeds and things as may be requisite in relation to any such trust.

(9) To institute, conduct, defend of abandon any legal proceedings by or against the Company or its officers or otherwise concerning the affairs of the Company and also to compound and allow time for payment or satisfaction of any debts due to or of any claims and demands by or against the Company.

(10) To refer claims and demands by or against the Company to arbitration and to observe and perform the awards.

(11) To make and give receipts, releases and other discharges for money payable to the Company and for the claims and demands of the Company.

(12) To act on behalf of the Company in all matters relating to bankruptcy and insolvency.

(13) To determine who shall be entitled to sign bills of exchange, cheques, Promissory notes, receipts, endorsements, releases contracts and documents for or on behalf of the Company.

(14) To invest, place on deposit and otherwise deal with any of the moneys of the Company not immediately required for the purpose thereof, upon securities or without securities ad in such manners as the Directors may think fit, and from time to time vary or realize such investments.

(15) To execute in the name and on behalf of the Company I favor any Director or other person who may incur or be about to incur any personal liability for the benefit of the Company, such mortgage of the Company's property (present and future) as they think fit and any such mortgage may contain a power of sale and such other powers, covenants and provisions as shall be agreed on.

(16) To give any officer or other person employed by the Company a commission o the profits of any particular business or transaction or a share in the general profit of the Company and such commission or share of profit shall be treated as part of the working expenses of the Company.

(17) From time to time, to make, vary and repeal bye-laws for the regulation of the business of the Company, the offices and servants or the members of the Company or any section thereof.

(18) To enter into all such negotiations and contracts and rescind and vary all such contracts and execute and do all such acts, deeds and things in the name and on behalf of the Company as they may consider expedient for or in relation to any of the matter aforesaid or otherwise for the purposes of the Company.

(19) To borrow money for the benefit of the Company's business from any person, firm or company or bank or financial organization of local and abroad in the manner that the Directors shall think fit

## GENERAL MEETINGS

15. A general meeting shall be held within eighteen months from the date of its incorporation and thereafter at least once in every calendar year at such time (not being more than fifteen months after the holding of the last preceding general meeting) and places as may be fixed by the Board of Directors, No business shall be transacted at any general meeting unless a quorum of members is presented at the time when the meeting proceeds to business, save as herein otherwise provided Member holding no less than 50 percent of the issued shares capital (not less than two members consisting of one from either party) personally present, shall form a quorum for all purposes. And if and when in the case of there are only two number of members in the Company, those two members shall form a quorum.

## DIVIDENDS

16. The Company in general meeting may declare a dividend to be paid to the members, but no dividend shall exceed the amount recommended by the Directors. No. dividends shall be paid otherwise than out of the profits of the year or any other undistributed profits.

## OFFICE STAFF

17. The Company shall maintain an office establishment and appoint a qualified person as General Manager and other qualified persons as office staffs. The remunerations and allowances such as salaries, travelling allowances and other expenditures incidental to the business shall be determined by the Board of Directors, and approved by the general meeting. The General Manager Shall be responsible for the efficient operation of the office in ever respect and shall be held accountable at all times to the President.

## ACCOUNTS

18. The Directors shall cause to be kept roper books of account with respect to:-

(1) ***all sums of money received and expended by the Company and the matters in respect of which the receipts and expenditures take place;***

(2) ***all sales and purchases of goods by the Company;***

(3) ***all assets and liabilities of the Company;***

19. The books of account shall be kept at the registered office of the Company or at such other place as the Directors shall think fit and shall be opened to inspection by the Directors during office hours.

## AUDIT

20. Auditors shall be appointed and their duties regulated in accordance with the provisions of the Myanmar Companies Act or any statutory modifications thereof for the time being in force.

## NOTICE

21. A notice may be given by the Company to any member either personally or sending it by post in a prepaid letter addressed to his registered address.

## THE SEAL

22. The Directors shall provide for the safe custody of the Seal, and the Seal shall never be used except by the authority of the Directors previously given, and in the presence of one Director at least, who shall sig every instrument to which the Seal is affixed.

## INDEMNITY

23. Subject to the provisions of Section 86(C) of the Myanmar Companies Act and the existing laws, every Director, Auditor, Secretary or other officers of the Company shall be entitled to be indemnified by the Company against all costs, charges, losses, expenses and liabilities incurred by him in the execution and discharge of the duties or in relation thereto.

## WINDING - UP

24. Subject to the provisions contained in the Myanmar Companies Act and the statutory modification thereupon, the Company may be wound up voluntarily by the resolution of General Meeting.

****************

We, the several persons, whose names, nationalities, addresses and descriptions are subscribed below, are desirous of being formed into a Company in pursuance of this Articles of Association, and we respectively agree to take the number of shares in the Capital of the Company set opposite our respective names.

| Sr. No. | Name, Address and Occupation of Subscribers | Nationality & N.R.C No. | Number of Shares taken | Signatures |
|---|---|---|---|---|
| 1. | **A1 Construction Co.,Ltd**<br>Represented by:-<br><br>**Daw Theingi Lin** ( Director)<br>No.41A, Shwe Taung Kyar Street,<br>Shwe Taung Kyarr Ward (2),<br>Bahan Township, Yangon, Myanmar | Myanmar<br>Company<br><br>Myanmar<br>12/SaKhaNa(N)<br>057096 | 501<br>(33.4%) | |
| 2. | **Goshu Kohsan Co., Ltd.**<br>Represented by:-<br><br>**Mr. Yoshihiko Hisamatsu**(Consultant)<br>374, 7-Chome, Nishi-Gotanda,<br>Shinagawa-Ku, Tokyo, Japan. | Incorporated<br>In Thailand<br><br>Japanese<br>TK1039399 | 999<br>(66.6%) | |

Yangon.
Dated the 4th day of Sept, 2014.
*It is hereby certified that the persons mentioned above put their signatures in my presence.*

Sandar Aye
ဒေါ်စန္ဒာအေး
B.Com, C.P.A